အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Japfa Comfeed Myanmar Pte. Ltd. မှ မျိုးခြံနှင့် သားပေါက် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (ကြက်) ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ | - Japfa Comfeed Myanmar Pte. Ltd.<br>- Mr. Mark Gerald Eman (MD) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Japfa Myanmar JV Pte. Ltd. (စင်ကာပူ) ၉၉ %<br>အကောင်းဆုံးမွေးမြူရေး လီမိတက် (မြန်မာ) ၁ % |
| | လုပ်ငန်းအမျိုးအစား | - မျိုးခြံနှင့် သားပေါက် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (ကြက်) |
| ၂။ | တည်နေရာ | - မန္တလေးတိုင်း ဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ မြို့သာနှင့် နဘူးအိုင်ရွာအကြား၊ မြို့သာစက်မှုဥယျာဉ်၊ စက်ရုံဧရိယာ၊ ဇုန် ၁ စီ၊ မြေကွက် အမှတ် (C-၁-၁-၁) နှင့် ဇုန် ၂ စီ၊ မြေကွက်အမှတ် (B-၂-၈ နှင့် B-၂-၄) |
| ၃။ | မြေပိုင်ရှင် | - မန္တလေးမြို့သာစက်မှုဖွံ့ဖြိုးရေးအများပိုင် ကုမ္ပဏီလီမိတက် |
| ၄။ | မြေအကျယ်အဝန်း | - မြေကွက် (C-၁-၁-၁) ရှိ မြေ (၄.၂)ဧက (၁၆၉၉၇.၄ စတုရန်း မီတာ)<br>- (B-၂-၈ နှင့် B-၂-၄) ရှိ မြေ (၅၀)ဧက (၂၀၂၃၅၀ စတုရန်း မီတာ) |
| ၅။ | မြေငှားရမ်းခ | - မြေ (၄.၂)ဧက အတွက် တစ်နှစ်လျှင် မြေငှားရမ်းခ အမေရိကန်ဒေါ်လာ ၈၄၉၈.၇<br>- မြေ (၅၀)ဧက အတွက် တစ်နှစ်လျှင် မြေငှားရမ်းခ အမေရိကန်ဒေါ်လာ ၁၀၁,၁၇၅<br>(တစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၀.၅ ဒေါ်လာနှုန်း) |
| ၆။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် |
| ၇။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |

၈။ စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား

- US$ ၇.၀၇၁ သန်း

| | | ပြည်ပ (US$/သန်း) | ပြည်တွင်း (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၁.၆၆ | ၀.၀၇၁ | ၁.၇၃၁ |
| (ခ) | စက်ပစ္စည်း၊ စက်ကရိယာ တန်ဖိုး | ၁.၇၉ | | ၁.၇၉၀ |
| (ဂ) | အခြား(ဆောက်လုပ်ရေးလုပ်ငန်းသုံး) | ၃.၅၅ | | ၃.၅၅၀ |
| | စုစုပေါင်း | ၇.၀၀ | ၀.၀၇၁ | ၇.၀၇၁ |

၉။ ဝန်ထမ်းအင်အား

- **၉၉ ဦး**

ပြည်တွင်း

- ၉၃ ဦး (အနိမ့်ဆုံး လစာမှာ ၁၅၀,၀၀၀ ကျပ်ဖြစ်ပြီးအမြင့်ဆုံး လစာမှာ ၅၀၀,၀၀၀ ကျပ်ဖြစ်ပါသည်။)

ပြည်ပ

- ၆ ဦး (အနိမ့်ဆုံး လစာမှာ US$ ၃,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ US$ ၅,၀၀၀ ဖြစ်ပါသည်။

၁၀။ နှစ်စဉ်ထုတ်လုပ်မည့်ပစ္စည်း (၈ နှစ်မြောက်)

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (DOC) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/DOC) |
|---|---|---|---|
| (က) | Layer (DOC) | ၄,၄၂၃,၃၈၄ | ၁၂၅၀.၀၀ |
| (ခ) | Broiler (DOC) | ၁၀,၇၄၅,၈၄၂ | ၇၀၀.၀၀ |

၁၁။ လျှပ်စစ်ဓါတ်အားလိုအပ်ချက် (နှစ်စဉ်)

- မျိုးကြက်ခြံလုပ်ငန်း - ၁,၀၀၃,၅၂၀ Kwh
- ကြက်သားပေါက် လုပ်ငန်း - ၆၈၀,၉၆၀ Kwh

၁၂။ အခြားတင်ပြချက်

- ကုမ္ပဏီမှ ဒါရိုက်တာစာရင်း ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင် မိတ္တူနှင့် နိုင်ငံကူးလက်မှတ် မိတ္တူများ၊ ကုမ္ပဏီမှတ်ပုံတင်ကတ်နှင့် ငွေကြေးအထောက်အထားများ တင်ပြထားပါသည်။
- Japfa Myanmar JV Pte. Ltd. နှင့် အကောင်းဆုံး မွေးမြူရေး လီမိတက်တို့ ချုပ်ဆိုထားသော ဖက်စပ်စာချုပ် တင်ပြထားပါသည်။

| | | |
|---|---|---|
| ၁၃။ | စိစစ်တင်ပြချက် | - မန္တလေးမြို့သာစက်မှုဖွံ့ဖြိုးရေးအများပိုင် ကုမ္ပဏီလီမိတက်နှင့် Japfa Myanmar JV Pte. Ltd. တို့ချုပ်ဆိုထားသော မြေငှားစာချုပ်နှင့် တည်နေရာပြ မြေပုံတို့ကို တင်ပြထားပါသည်။<br>- မြေအသုံးပြုခွင့် လျှောက်ထားလွှာ ပုံစံ (၇-က)နှင့် အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် လျှောက်ထားလွှာတို့အား ပူးတွဲတင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် စင်ကာပူနိုင်ငံရှိ Standard Chartered Bank တွင် Japfa Ltd. အမည်ဖြင့် ၃၁-၁-၂၀၁၇ ရက်နေ့ညှိအထိ US$ ၈,၇၇၄,၄၉၆.၀၃ ရှိကြောင်းနှင့် Best Livestock Limited ၏ Audit Report တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁၀ ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်-၁၅/၂၀၁၇ အရ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏အတည်ပြုချက် ရယူဆောင်ရွက်ရမည့်လုပ်ငန်းဖြစ်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ EIA အစီရင်ခံစာ ရေးဆွဲတင်ပြရန် သဘောထားမှတ်ချက်ပြုထားပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၅ (က)အရ ရင်းနှီး မြှုပ်နှံမှုလုပ်ငန်းသည် ကော်မရှင်ခွင့်ပြုမိန့် ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အမျိုးအစားဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မန္တလေးတိုင်း ဒေသကြီး၊ ငါန်းဇွန်မြို့နယ်တွင် ဆောင်ရွက်မည်ဖြစ်၍ ဇုန်(၁)တွင် ပါဝင်ပါသည်။ ကုမ္ပဏီမှ မြေအသုံးပြုခွင့်နှင့် အခွန်ကင်းလွတ်ခွင့် သက်သာခွင့် လျှောက်ထားလွှာ ပူးတွဲတင်ပြထားပြီး ဝင်ငွေခွန် (၇)နှစ်ခံစားနိုင်မည် ဖြစ်ပါသည်။ |

| | | |
|---|---|---|
| | | - အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်- ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှု ကဏ္ဍစာရင်းတွင် ပါဝင်သည့် လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။<br>- Japfa Comfeed Myanmar Pte., Ltd. သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၁၃ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ်- ၁၁၆၉/၂၀၁၆ ဖြင့် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ မြို့သာနှင့် နဘူးအိုင်ရွာအကြား၊ မြို့သာ စက်မှုဥယျာဉ်၊ ဇုန် ၁ စီ၊ မြေတိုင်းအမှတ်-စက်ရုံ ဧရိယာ၊ မြေကွက်အမှတ်-(စီ-၂+၃)တွင် တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းကို လုပ်ကိုင် ဆောင်ရွက်နေသော ကုမ္ပဏီ ဖြစ်ပါသည်။<br>- ကုမ္ပဏီအနေဖြင့် လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်း များနှင့် ကုန်ကြမ်းအား ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိ ရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/န-၁၇၅/၂၀၁၇( ၄၆၂ )

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဇွန်လ ၁၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Japfa Comfeed Myanmar Pte. Ltd. မှ မျိုးခြံနှင့် သားပေါက် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (ကြက်) ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စ**

၁။ စင်ကာပူနိုင်ငံ Japfa Myanmar JV Pte., Ltd. မှ ၉၉% နှင့် Best Livestock Ltd. မှ ၁ % အစုရှယ်ယာများ ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် Japfa Comfeed Myanmar Pte. Ltd. တည်ထောင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ မြို့သာနှင့် နဘူးအိုင်ရွာအကြား၊ မြို့သာစက်မှုဥယျာဉ်၊ စက်ရုံ ဇရိယာ၊ ဇုန် ၁ စီ၊ မြေကွက်အမှတ်(C-၁-၁-၁) ရှိ မြေ (၄.၂)ဧကနှင့် ဇုန် ၂ စီ၊ မြေကွက်အမှတ် (B-၂-၈ နှင့် B-၂-၄) ရှိ မြေ (၅၀) ဧကကို ငှားရမ်း၍ မျိုးခြံနှင့် သားပေါက် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (ကြက်) အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် မန္တလေးမြို့သာစက်မှုဖွံ့ဖြိုးရေးအများပိုင် ကုမ္ပဏီလီမိတက်နှင့် မြေငှားသူ Japfa Comfeed Myanmar Pte., Ltd. တို့ ချုပ်ဆိုထားသည့် မြေငှားစာချုပ်အား တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပါသည်။ မြေအကျယ်အဝန်းမှာ စုစုပေါင်း ၅၄.၂ဧက (၂၁၉၃၄၇.၄ စတုရန်းမီတာ) ဖြစ်ပြီး တစ်စတုရန်းမီတာလျှင် ၀.၅ ဒေါ်လာနှုန်း ဖြင့် တစ်နှစ်လျှင် မြေငှားရမ်းခ အမေရိကန်ဒေါ်လာ ၁၀၉၆၇၃.၇ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၇.၀၇၁ သန်းဖြစ်၍ အောက်ပါ အတိုင်း ထည့်ဝင်ထားပါသည်-

| | | ပြည်ပ (US$/သန်း) | ပြည်တွင်း (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၁.၆၆ | ၀.၀၇၁ | ၁.၇၃၁ |
| (ခ) | စက်ပစ္စည်း၊ စက်ကရိယာ တန်ဖိုး | ၁.၇၉ | | ၁.၇၉၀ |
| (ဂ) | အခြား(ဆောက်လုပ်ရေး လုပ်ငန်းသုံး) | ၃.၅၅ | | ၃.၅၅၀ |
| | **စုစုပေါင်း** | **၇.၀၀** | **၀.၀၇၁** | **၇.၀၇၁** |

ငွေလဲလှယ်နှုန်းအနေဖြင့် အမေရိကန် တစ်ဒေါ်လာလျှင် ကျပ် ၁,၃၀၀ ဖြင့် ဖော်ပြထားပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း(၉၃) ဦးနှင့် ပြည်ပဝန်ထမ်း(၆) ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၉၉ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ၁၅၀,၀၀၀ ကျပ်နှင့် အမြင့်ဆုံးလစာမှာ ၅၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၃,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၅,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (အဌမမြောက်နှစ်)ရှိ ပြည်တွင်း ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **စဉ်** | **ပစ္စည်း အမျိုးအစား** | **အရေအတွက် (DOC)** | **ရောင်းချမည့် ဈေးနှုန်း (ကျပ်/DOC)** |
|---|---|---|---|
| (က) | Layer (DOC) | ၄,၄၂၃,၃၈၄ | ၁၂၅၀.၀၀ |
| (ခ) | Broiler (DOC) | ၁၀,၇၄၅,၈၄၂ | ၇၀၀.၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထား ပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ Japfa Comfeed Myanmar Pte., Ltd. သို့ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောထား တောင်းခံစာနှင့် ပတ်သက်၍

"မြို့သာစက်မှုဇုန်အတွင်းဖြစ်ခြင်း၊ ပတ်ဝန်းကျင်ဆိုင်ရာ စီမံ ခန့်ခွဲမှု အစီအစဉ် (Environmental Management Plan – EMP) လိုအပ် ပါလိမ့်မည်၊ အစီအစဉ် တင်ပြပါရန်၊ ရင်းနှီးမြှုပ်နှံမှုကို ကန့်ကွက်ရန် မရှိပါ" ဟု မှတ်ချက် ပြုထားပါသဖြင့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan – EMP) ဆောင်ရွက်ထားရှိမှု အခြေအနေကို ပြန်လည် တင်ပြရန် အကြောင်းကြားစာအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မိတ္တူ ပေးပို့လာခြင်းဖြစ်ပါသည်။

**နောက်ဆက်တွဲ - က**

(ခ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ မွေးမြူရေးကဏ္ဍ လုပ်ငန်းများ အတွက် ထည့်သွင်းရေးဆွဲထားသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေသစ်အရ မျိုးခြံနှင့် ကြက်ဥဖောက်စက်လုပ်ငန်း ပူးတွဲဖော်ပြထားသဖြင့် မျိုးခြံလုပ်ငန်းကိုပါ လုပ်ဆောင်မည်ဆိုပါကခွင့်ပြုသင့်ပါကြောင်း သဘောထား ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန**မှ သဘောထား ပြန်ကြားစာတွင် အဓိက ပါဝင်သော အချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်- **နောက်ဆက်တွဲ -ဂ**

(၁) ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် ၅၅ နှင့် ၆၃ ပါ အချက်များနှင့်အညီ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း အစီရင်ခံစာ (EIA)ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်။

(၂) ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံး လုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် စင်ကာပူနိုင်ငံရှိ Standard Chartered Bank တွင် Japfa Ltd. အမည်ဖြင့် ၃၁-၁-၂၀၁၇ ရက်နေ့အထိ US$ ၈,၇၇၄,၄၉၆.၀၃ ရှိကြောင်းနှင့် Best Livestock Limited ၏ Audit Report တင်ပြထားပါသည်။

၁၀။ Japfa Comfeed Myanmar Pte. Ltd. မှ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းဆောင့်ရှောက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန်ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ CSR Project တို့ကို တင်ပြထားပါသည်။

၁၁။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ် မေလ ၂၂ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၁၄/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ EIA အစီရင်ခံစာ ရေးဆွဲ တင်ပြရန် သဘောထားမှတ်ချက်ပြုထားပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၅ (က)အရ ရင်းနှီး မြှုပ်နှံမှုလုပ်ငန်းသည် ကော်မရှင်ခွင့်ပြုမိန့် ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အမျိုးအစားဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်- ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍစာရင်းတွင် ပါဝင်သည့် လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းသည် မန္တလေးတိုင်းဒေသကြီး၊ ငါန်းဇွန်မြို့နယ်တွင် ဆောင်ရွက်မည်ဖြစ်၍ ဇုန်(၁)တွင်ပါဝင်ပါသည်။ ကုမ္ပဏီမှ မြေအသုံးပြုခွင့်နှင့် အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် လျှောက်ထားလွှာ ပူးတွဲတင်ပြထားပြီး ဝင်ငွေခွန် (၇)နှစ်ခံစားနိုင်မည် ဖြစ်ပါသည်။

(ဂ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

(ဃ) Japfa Comfeed Myanmar Pte. Ltd.မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၁၃ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ်- ၁၁၆၉/၂၀၁၆ ဖြင့် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ မြို့သာနှင့် နဘူးအိုင်ရွာ အကြား၊ မြို့သာစက်မှုဥယျာဉ်၊ ဇုန် ၁ စီ၊ မြေတိုင်းအမှတ်-စက်ရုံဧရိယာ၊ မြေကွက်အမှတ်-(စီ-၂+၃) တွင် တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းကို လုပ်ကိုင် ဆောင်ရွက်နေသော ကုမ္ပဏီဖြစ်ပါသည်။

(င) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ Japfa Comfeed Myanmar Pte. Ltd. မှ မျိုးခြံနှင့် သားပေါက် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း (ကြက်) အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာ ခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

## Japfa Comfeed Myanmar Pte. Ltd.၏
## ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | **Japfa Comfeed Myanmar Pte. Ltd.** | JAPFA Myanmar JV Pte., Ltd.<br>Represented by<br>(a) Mr. Mark Gerald Eman<br>Indonesia<br>PP. No. A 8958583<br>Managing Director<br>(b) Mr. Tan Yong Nang<br>Singapore<br>PP. No. E 3478370C<br>Director<br>Best Livestock Limited<br>Represented by<br>(c) Dr. Thaung Wai @ U Saung Hout<br>Myanmar<br>12/ Ka Ma Ya (N) 034248<br>Director | <br><br>Agung Raya II # 31A, Lenteng Agung, Jakata Selatan, Indonesia, 12610.<br><br>8 Jalan Haji Alias Corona Court Singapore 268510<br><br>NO. 47, Wah Oo 3rd Street, Phort Kan Quarter, Insein Township, Yangon Region |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၄၃၁၈၉၈၆၁

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါက်တာမောင်မောင်အေး

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - မျိုးခြံနှင့် သားပေါက် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း (ကြက်)

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

RECEIVED 01/01/2013 04:15

နောက်ဆက်တွဲ (က)

FROM : FAX NO. : 7 Mar. 2017 1:29PM P1

MF - 1573

7. 3. 2017

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
မန္တလေးမြို့

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆ (၉၉၄ )
ရက် စွဲ၊ ၂၀၁၇ ခုနှစ် ၊ မတ်လ ၆ ရက်

သို့
မန်နေဂျင်းဒါရိုက်တာ
JAPFA Comfeed Myanmar Pte., Ltd

အကြောင်းအရာ။ Environmental Management Plan – EMP တင်ပြရန်ကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၂၀ . ၂ . ၂၀၁၇ ) ရက်စွဲပါစာအမှတ်၊ မရက - ၉ / န - ထွေ / ၂၀၁၇ ( ၀၅၇၈ )

ငါန်းဇွန်မြို့နယ်၊ မြို့သာနှင့်နဘူးအိုင်ရွာအကြား၊ မြို့သာစက်မှုဥယျာဉ်စက်မှုဇုန်မြေ(၅၀)ဧက (ခေတ်မီမျိုးကြက်ခြံလုပ်ငန်း)နှင့် စက်မှုဇုန်မြေ(၄.၂)ဧက (ခေတ်မီကြက်သားပေါက်လုပ်ငန်း) တွင် တိရိစ္ဆာန်မွေးမြူရေးနှင့် တိရိစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်းများ တိုးချဲ့ဆောင်ရွက်သည့်ကိစ္စနှင့် ပတ်သက်ပြီး တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းလာသည့်ကိစ္စနှင့်ပတ်သက်၍ **“ မြို့သာစက်မှုဇုန်အတွင်းဖြစ်ခြင်း ၊ ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ်( Environmental Management Plan – EMP )လိုအပ်ပါလိမ့်မည်၊ အစီအစဉ်တင်ပြပါရန်၊ ရင်းနှီးမြှုပ်နှံမှုကို ကန့်ကွက်ရန်မရှိပါ ”** ဟုမှတ်ချက်ပြုထားပါသဖြင့် တိုးချဲ့ဆောင်ရွက်မည့်လုပ်ငန်းနှင့် ပတ်သက်၍ ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုအစီအစဉ်( Environmental Management Plan – EMP ) ဆောင်ရွက်ထားရှိမှုအခြေအနေအား ပြန်လည်တင်ပြရန် အကြောင်းကြားပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(ဇော်တင်မိုး၊ ညွှန်ကြားရေးမှူး)

မိတ္တူကို
မန္တလေးတိုင်းဒေသကြီးစီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့ ၊
လှည့်လည်စာတွဲ ၊
ရုံးလက်ခံ။

နောက်ဆက်တွဲ (၁)

MF- 2025

31-3-2017

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ၃/ ၃၀၀၀/ မွေးရေကျေး( ၅၂၇ /၂၀၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၃၀ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀-၂-၂၀၁၇) ရက်စွဲပါစာအမှတ်၊ မရက-၉/န-ထွေ/၂၀၁၇(၁၅၇၆)

၁။ Japfa Comfeed Myanmar Pte. Ltd., သည် မြေကွက်အမှတ်- (စီ-၂+၃)၊ မြေတိုင်းအမှတ်-စက်ရုံဇရိယာ၊ ဇုန် ၁ စီ၊ မြို့သာစက်မှုဥယျာဉ်၊ မြို့သာနှင့် နဘူးအိုင်ရွာအကြား ငါန်းဇွန်မြို့နယ်၊ မြင်းခြံခရိုင် မန္တလေးတိုင်းဒေသကြီးတွင် တိရစ္ဆာန်အစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်လျက်ရှိပြီး မူလလုပ်ငန်းတည်နေရာအပြင် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ မြို့သာစက်မှုဥယျာဉ်တွင် စက်မှုဇုန်မြေ(၅၀) ဧက (ခေတ်မီမျိုးခြံကြက်ခြံလုပ်ငန်း)နှင့် စက်မှုဇုန်မြေ(၄.၂)ဧက (ခေတ်မီကြက်သားပေါက်လုပ်ငန်း)တွင် စုစုပေါင်းမတည်ငွေရင်းပမာဏတိုးမြှင့်၍ တိရစ္ဆာန်မွေးမြူရေးနှင့် တိရစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်းသို့ တိုးချဲ့ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ သတ်မှတ်ထားသော မွေးမြူရေးလုပ်ငန်းကျင့်စဉ် (GAHP, GMP) များနှင့်ကိုက်ညီစွာ လိုက်နာဆောင်ရွက်သွားပါက ခေတ်မီမျိုးကြက်ခြံနှင့် သားဖောက်ခြင်းလုပ်ငန်းဖြင့် ပြည်တွင်းဈေးကွက်သို့ ဖြန့်ဖြူးခြင်းလုပ်ငန်း လုပ်ဆောင်မည်ဆိုပါက ပြည်တွင်းအစားအစာဖူလုံရေးနှင့် မွေးမြူရေးကဏ္ဍဖွံ့ဖြိုးတိုးတက်ရေးအတွက် အထောက်အကူပြုလုပ်ငန်းဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် မွေးမြူရေးကဏ္ဍလုပ်ငန်းများအတွက် ထည့်သွင်းရေးဆွဲထားသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအသစ်အရ

မျိုးခြံနှင့် ဥဖောက်စက်လုပ်ငန်း ပူးတွဲဖော်ပြထားသဖြင့် မျိုးခြံလုပ်ငန်းကိုပါ လုပ်ဆောင်မည်ဆိုပါက ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၃၀/၁၂/၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူ

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) Japfa Comfeed Myanmar Pte. Ltd

(၃) ရုံးလက်ခံ

(၄) မျှော

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်ရုံး

စာအမှတ်၊ ညကခ/သထ/MIC/၂၀၁၇( ၁၄၃ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် မတ်လ ၁၄ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက်အားတင်ပြခြင်း**

ရည်ညွှန်းချက်။ ပြည်ထောင်စုဝန်ကြီးရုံး၏ (၈-၃-၂၀၁၇) ရက်စွဲပါ စာအမှတ်၊ ၃/ ၃၀၀၀/ မွေးရေးကျေး(၂၂၃/၂၀၁၇)

၁။ Japfa Comfeed Myanmar Pte. Ltd., သည် မြေကွက်အမှတ်-(စီ-၂+၃)၊ မြေတိုင်းအမှတ်-စက်ရုံဧရိယာ၊ ဇုန် ၁ စီ၊ မြို့သာစက်မှုဥယျာဉ်၊ မြို့သာနှင့် နဘူးအိုင်ရွာအကြား ငါန်းဇွန်မြို့နယ်၊ မြင်းခြံခရိုင် မန္တလေးတိုင်းဒေသကြီးတွင် တိရစ္ဆာန်အစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်လျက်ရှိပြီး မူလလုပ်ငန်းတည်နေရာအပြင် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ မြို့သာစက်မှုဥယျာဉ်တွင် စက်မှုဇုန်မြေ (၅၀) ဧက (ခေတ်မီမျိုးခြံကြက်ခြံလုပ်ငန်း) နှင့် စက်မှုဇုန်မြေ (၄.၂) ဧက (ခေတ်မီကြက်သားပေါက်လုပ်ငန်း) တွင် စုစုပေါင်းမတည်ငွေရင်းပမာဏတိုးမြှင့်၍ တိရစ္ဆာန်မွေးမြူရေးနှင့်တိရစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်းသို့ တိုးချဲ့ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ သတ်မှတ်ထား မွေးမြူရေးလုပ်ငန်းကျင့်စဉ် (GAHP, GMP) များနှင့်ကိုက်ညီစွာ လိုက်နာဆောင်ရွက်သွားပါက ခေတ်မီမျိုးကြက်ခြံနှင့်သားဖောက်ခြင်းလုပ်ငန်းဖြင့် ပြည်တွင်းဈေးကွက်သို့ ဖြန့်ဖြူးခြင်းလုပ်ငန်းလုပ်ဆောင်မည်ဆိုပါက ပြည်တွင်းအစားအစာဖူလုံရေးနှင့် မွေးမြူရေးကဏ္ဍဖွံ့ဖြိုးတိုးတက်ရေးအတွက် အထောက်အကူပြုလုပ်ငန်းဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ မွေးမြူရေးကဏ္ဍလုပ်ငန်းများအတွက် ထည့်သွင်းရေးဆွဲထားသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေသစ်အရ မျိုးခြံနှင့်ဥဖောက်စက်လုပ်ငန်း ပူးတွဲဖော်ပြထားသဖြင့် မျိုးခြံလုပ်ငန်းကိုပါ လုပ်ဆောင်မည်ဆိုပါက ခွင့်ပြုသင့်ကြောင်း တင်ပြအပ်ပါသည်။

ဒေါက်တာရဲထွန်းဝင်း
ညွှန်ကြားရေးမှူးချုပ်

**ပြည်ထောင်စုဝန်ကြီး**
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

မိတ္တူကို-

ညွှန်ကြားရေးမှူးချုပ်ရုံး၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

ညွှန်ကြားရေးမှူး (သု/ထိန်း)၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

လက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ရုံးအမှတ်(၅၃)၊နေပြည်တော်

စာအမှတ်၊အီးအိုင်အေ-၁/၄(က)(၆၂၄/၂၀၁၇)

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဧပြီလ ၃ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ JAPFA Comfeed Myanmar Pte.Ltd ၏ ခေတ်မီမျိုးကြက်ခြံလုပ်ငန်းနှင့် ခေတ်မီကြက်သားပေါက်လုပ်ငန်းအတွက် သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။

(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၂-၂၀၁၇ ရက်စွဲပါ စာအမှတ် မရက-၉/န-ထွေ/၂၀၁၇(၁၅၇၇)

(၂) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံး၏ ၃-၃-၂၀၁၇ ရက်စွဲပါစာအမှတ် (သစ်တော) ၃(၂)/၀၆(က)(၈၀၆/၂၀၁၇)

(၃) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ၂၃-၃-၂၀၁၄ ရက်စွဲပါ စာအမှတ်- အီးအိုင်အေ-၁/၄(က)(၅၂၅/၂၀၁၇)

(၄) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံး၏ ၃၀-၃-၂၀၁၇ ရက်စွဲပါ စာအမှတ် (သစ်တော) ၃(၂)/၀၆(က)(၁၁၇၄/၂၀၁၇)

၁။ အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ JAPFA Comfeed Myanmar Pte.Ltd ၏ မြေကွက်အမှတ်-(စီ-၂+၃)၊ မြေတိုင်းအမှတ်- စက်ရုံဇရိယာ၊ ဇုန် ၁ စီ၊ မြို့သာစက်မှုဥယျာဉ်၊ မြို့သာနှင့် နဘူးအိုင်ရွာအကြား၊ ငါးဇွန်မြို့နယ်၊ မြင်းခြံခရိုင်၊ မန္တလေးတိုင်းဒေသကြီးတွင် ဆောင်ရွက်လျက်ရှိသည့် တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို မူလလုပ်ငန်းတည်နေရာအပြင် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါးဇွန်မြို့နယ်၊ မြို့သာစက်မှုဥယျာဉ်တွင် စက်မှုဇုန်မြေ (၅၀)ဧက (ခေတ်မီမျိုးကြက်ခြံလုပ်ငန်း)နှင့် စက်မှုဇုန်မြေ (၄.၂) ဧက (ခေတ်မီ ကြက်သားပေါက်လုပ်ငန်း)တွင် စုစုပေါင်းမတည်ငွေရင်းပမာဏတိုးမြှင့်၍ လုပ်ငန်းအမျိုးအစားအား တိရိစ္ဆာန်မွေးမြူရေးနှင့် တိရစ္ဆာန်အစာထုတ်လုပ်ခြင်း လုပ်ငန်းသို့ တိုးချဲ့ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ အဆိုပါ မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ရန် သင့်/ မသင့် နှင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု ရှိ- မရှိ ပြန်ကြားပေးပါရန် ရည်ညွှန်း(၁)ပါစာဖြင့် ပေးပို့လာခြင်းအပေါ် စိစစ်သုံးသပ်၍ ပြန်လည် တင်ပြပေးနိုင်ပါရန် ပြည်ထောင်စုဝန်ကြီးရုံးမှ ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားလာပါသည်။ အဆိုပါအကြောင်းကြားလာမှုအပေါ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ စိစစ်၍ ရည်ညွှန်း(၃) ပါစာဖြင့် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံးသို့ ပြန်ကြားခွင့်ပြုနိုင်ပါရန် တင်ပြခဲ့ရာ ပြည်ထောင်စုဝန်ကြီးရုံးမှ ရည်ညွှန်း(၄)ပါစာဖြင့် ပြန်ကြားရန် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ် ဖြစ်ပြီး၊ လုပ်ငန်းတည်ဆောက်မည့် ကာလမှာ (၁) နှစ် ဖြစ်ကြောင်း၊ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပြည်တွင်းဝန်ထမ်း (၉၃) ဦးနှင့် နိုင်ငံခြား ကျွမ်းကျင်ပညာရှင် (၆) ဦး ခန့်ထားမည် ဖြစ်ပါကြောင်း၊ ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်အတွက် ဥစားကြက်အကောင်ရေ (၅၀၂,၇၇၆)ကောင် နှင့် အသားစားကြက်အကောင်ရေ (၁၀,၄၈၆,၉၇၈)ကောင် နှင့် ဒုတိယနှစ်မှစ၍ ထပ်တိုးမွေးမြူ ထုတ်လုပ်သွားမည်ဖြစ်ပါကြောင်း၊ လုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှ ရရှိလာမည့် အသားတင်အမြတ်ငွေ၏ ၂% ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ စီမံကိန်းလုပ်ငန်းတွင် အသားစားကြက်နှင့် ဥစားကြက်များမွေးမြူရေးဆောင်ရွက်ခြင်း၊ တိရစ္ဆာန်အစားအစာများဖြစ်သော ပြောင်းဖူး၊ ဆန်ကွဲ၊ ဂျုံစသော ကုန်ကြမ်းပစ္စည်းများအား သိုလှောင်ခြင်း၊ ရောစပ်ခြင်းစသည့် လုပ်ငန်းစဉ်များ ဆောင်ရွက်ခြင်းကြောင့် အနံ့အသက်များ ထွက်နိုင်ခြင်း၊ ပတ်ဝန်းကျင်အရည်အသွေးအပေါ် ထိခိုက်နိုင်ခြင်း စသည်တို့ ဖြစ်ပေါ်နိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း၊ နောက်ဆက်တွဲ(က)၊ ဆန်းစစ်ခြင်း ဆောင်ရွက်ရန် လိုအပ်သည့် စီမံကိန်းလုပ်ငန်း အမျိုးအစားများ၊ ဇယား (၃၂)၊ ကြက်၊ ဘဲနှင့် အခြား စီးပွါးဖြစ် ငှက် မွေးမြူရေးလုပ်ငန်း တွင် " ကြက်၊ ဘဲ၊ ကြက်ဆင် အကောင် ၅,၀၀၀ နှင့်အထက်၊ အကောင် ၂၀,၀၀၀ အောက် လည်ပင်း/ခြေထောက်ရှည် ငှက်အကြီးစား အကောင် ၅၀ နှင့်အထက်၊ အကောင် ၂၀၀ အောက်၊ ငုံးအကောင် ၂၅,၀၀၀ နှင့်အထက်၊ အကောင် ၁၀၀,၀၀၀ အောက်" ထုတ်လုပ်ပါက ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) ဆောင်ရွက်ရမည်ဖြစ်ကြောင်းနှင့် "ကြက်၊ ဘဲ၊ ကြက်ဆင် အကောင် ၂၀,၀၀၀ နှင့်အထက်၊ လည်ပင်း/ခြေထောက်ရှည် ငှက်အကြီးစား အကောင် ၂၀၀ နှင့်အထက်၊ ငုံးအကောင် ၁၀၀,၀၀၀ နှင့်အထက်" ထုတ်လုပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (EIA) ဆောင်ရွက်ရမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၅။ အဆိုပြု အသားစားကြက်နှင့် ဥစားကြက်များ မွေးမြူရေးဆောင်ရွက်ခြင်း လုပ်ငန်းအတွက် ရည်ညွှန်း (၂) ပါ၏ နောက်ဆက်တွဲများအရ ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်အတွက် ဥစားကြက် အကောင်ရေ (၅၀၂,၇၇၆)ကောင် နှင့် အသားစားကြက်အကောင်ရေ (၁၀,၄၈၆,၉၇၈)ကောင် နှင့် ဒုတိယနှစ်မှစ၍ ထပ်တိုးမွေးမြူထုတ်လုပ်သွားမည်ဖြစ်ပါကြောင်း ဖော်ပြပါရှိသဖြင့် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်ရမည့် လုပ်ငန်း ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၆။ သို့ဖြစ်ပါ၍ JAPFA Comfeed Myanmar Pte.Ltd မှ ခေတ်မီမျိုးကြက်ခြံလုပ်ငန်းနှင့် ခေတ်မီကြက်သားပေါက်လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုရန်တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထား မှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment- EIA) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီး၏ တင်ပြအတည်ပြုချက်ရယူရန်၊

(ခ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်းအစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(ဂ) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၅၅) နှင့် (၆၃) ပါအချက်များနှင့်အညီ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း အစီရင်ခံစာ (EIA) ကိုဆောင်ရွက်ပြီး သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(ဃ) အထက်ပါလေ့လာဆန်းစစ်မှု ရလာဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(စ) လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

၃၄၂၀၁၈

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(စိန်ထွန်းလင်း၊ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို